# ကန့်သတ်

ကုမ္ပဏီအမည် - C.K Frozen Foods Yangon Company Limited.

လုပ်ငန်း - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Normal စနစ်ဖြင့် ငါး၊ ပုစွန်နှင့် ငါးခြောက်တို့ကို လည်းကောင်း၊ Contract Processing စနစ်ဖြင့် ငါးကိုလည်းကောင်း ပြုပြင်အေးခဲထုပ်ပိုးပြီး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁၈-၁၂-၂၀၁၅ | | |
| ၂ | အဆိုပြုချက်အား ကုမ္ပဏီဌာနခွဲသို့ ပေးပို့အကြောင်းကြားခြင်း | ၃၀-၁၂-၂၀၁၅ | | |
| ၃ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၃၀-၁၂-၂၀၁၅ | ၂၂-၁-၂၀၁၆ | |
| | (ခ) မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေး ဝန်ကြီးဌာန | ၃၀-၁၂-၂၀၁၅ | ၂၁-၁-၂၀၁၆ | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၃၀-၁၂-၂၀၁၅ | ၁၈-၁-၂၀၁၆ | |
| | (ဃ) ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့ | ၃၀-၁၂-၂၀၁၅ | ၁၈-၁-၂၀၁၆ | |
| | ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန | | | |
| ၄ | PAT တင်ပြခြင်း (၄၈/၂၀၁၅) | ၂၉-၁၂-၂၀၁၅ | | |
| ၅ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၃၀-၁၂-၂၀၁၅ | | |
| ၆ | မြေအသုံးပြုခွင့်တင်ပြခြင်း | | | |
| | (က) ကော်မရှင် အစည်းအဝေး (၁/၂၀၁၆) သို့ တင်ပြခြင်း | ၁၅-၁-၂၀၁၆ | | |
| | (ခ) စီးပွားရေးရာကော်မတီ အစည်းအဝေးသို့ တင်ပြခြင်း | | | |
| | (ဂ) ပြည်ထောင်စုအစိုးရအဖွဲ့ သို့ တင်ပြခြင်း | | | ဆောင်ရွက်ဆဲ |
| ၇ | ကုမ္ပဏီမှ လိုအပ်ချက်များပြင်ဆင်တင်ပြခြင်း | ၁၆-၂-၂၀၁၆ | | |
| ၈ | ကော်မရှင်အစည်းအဝေးသို့ တင်ပြခြင်း | ၂၆-၂-၂၀၁၆ | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **၇၁ ရက်** | | |

၁။ ကုမ္ပဏီအမည် C.K Frozen Foods Yangon Company Limited

၂။ အဖွဲ့အစည်းပုံသဏ္ဌာန် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု

၃။ လုပ်ငန်းအမျိုးအစား Normal စနစ်ဖြင့် ငါး၊ ပုစွန်နှင့် ငါးခြောက် တို့ကို လည်းကောင်း၊ Contract Processing စနစ်ဖြင့် ငါးကို လည်းကောင်း ပြုပြင် အေးခဲ ထုပ်ပိုးပြီးရောင်းချခြင်း လုပ်ငန်း

၄။ တည်နေရာ ရန်ကုန်တိုင်း ဒေသကြီး၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း) မြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်-စက်မှုဇုန်အပိုင်း(၁)၁၁၃၊ မြေကွက် အမှတ်-၁၈၁၊

၅။ စုစုပေါင်းရင်းနှီးမြှုပ်နှံမှု အမေရိကန်ဒေါ်လာ ၆.၂၅ သန်း

၆။ ရောင်းချမည့်စနစ် ၁၀၀% ပြည်ပပို့

၇။ လုပ်ငန်းသက်တမ်း ၅၀ နှစ်

၈။ အရင်းကြေကာလ ၁၁ နှစ် ၁ လ

၉။ IRR ၁၂.၅%

အထက်ပါလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်။

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit(ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ၀န်ထမ်းလစာ | ၂.၁၆၀ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၇၄.၅၂၀ | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | ၂၄.၀၀၀ | ၂၆.၄၀၀ |
| ၅ | ၀င်ငွေခွန် | ၁၉၂.၀၀၀ | ၆၈၈.၈၀၀ |
| ၆ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ၉၄၈.၀၀၀ |
| ၇ | လုပ်ခလစာအပေါ် ၀င်ငွေခွန် | | တစ်နှစ်၀င်ငွေ ကျပ်သိန်း နှစ်ဆယ် ထက်ကျော် ပါကအခွန်ပေးရမည့် ၀န်ထမ်း(၂၀)ဦး |
| ၈ | CSR (၂%) | | ၁၆.၄၄၀ |
| ၉ | မြေငှားရမ်းခရငွေ | | ၁၀၈၀.၀၀၀ |
| ၁၀ | အလုပ်အကိုင် အခွင့်အလမ်း | | ပြည်တွင်း ၁၅၅ ဦး<br>ပြည်ပ ၁၀ ဦး<br>ပြည်တွင်းလုပ်သား (၁၅၅) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသ အလုပ်အကိုင်အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ |
| | | ၂၉၂.၆၈၀ | ၂၇၆၀.၈၀၅ |
| | Cost & Benefit | ၁း၉ | |

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် CK Frozen Foods Yangon Company Limited မှ Normal စနစ်ဖြင့် ငါး၊ ပုစွန်နှင့် ငါးခြောက် တို့ကိုလည်းကောင်း၊ Contract Processing စနစ်ဖြင့် ငါးကိုလည်းကောင်း ပြုပြင်အေးခဲ ထုပ်ပိုးပြီး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

| | | | | | |
|---|---|---|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - C.K Frozen Foods Yangon Company Limited<br>- ဒေါ်ခင်သူဇာထွန်း | | | |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ( မြန်မာ ၂၀%၊ နိုင်ငံခြား ၈၀%)<br>(၁) C.K Frozen Fish & Food Company Limited မှ ၂၀% (မြန်မာ)<br>(၂) C.K Frozen Fish & Food Company Limited မှ ၆၅ % (ထိုင်း)<br>(၃) Khan Products Pte., Ltd. ၁၅% ( စင်္ကာပူ ) | | | |
| | လုပ်ငန်းအမျိုးအစား | - Normal စနစ်ဖြင့် ငါး၊ ပုစွန်နှင့် ငါးခြောက် တို့ကိုလည်းကောင်း၊ Contract Processing စနစ်ဖြင့် ငါးကိုလည်းကောင်း ပြုပြင်အေးခဲထုပ်ပိုးပြီးရောင်းချခြင်းလုပ်ငန်း | | | |
| ၂။ | တည်နေရာ | - ရန်ကုန်တိုင်း ဒေသကြီး၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း) မြို့နယ်၊ စက်မှုဇုန်အပိုင်း(၁)၊ မြေတိုင်းရပ်ကွက်အမှတ်- ၁၁၃၊ မြေကွက်အမှတ်-၁၈၁၊ | | | |
| | မြေပိုင်ရှင် | - ဒေါ်ခင်သူဇာထွန်း | | | |
| | မြေအကျယ်အဝန်း | - စုစုပေါင်း ၂.၄၉၂ ဧက (၁၀,၀၈၄.၇၇ စတုရန်းမီတာ) | | | |
| | မြေငှားသက်တမ်း | - ကနဦး ၁၅ နှစ် (သက်တမ်းတိုး ၁၀နှစ် ၂ကြိမ်) | | | |
| | တည်ဆောက်ရေးကာလ | - ၂၄ လ | | | |
| ၃။ | နှစ်စဉ်မြေငှားရမ်းခ | - တစ်နှစ်လျှင် ကျပ် ၂၁,၆၀၀,၀၀၀ နှုန်း<br>(တစ်နှစ် တစ်စတုရန်းမီတာလျှင် ကျပ် ၂၁၄၁.၈၄ နှုန်း) | | | |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၅၀ နှစ် (သက်တမ်းတိုး ၁၀နှစ် ၂ကြိမ်) | | | |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - US$ ၆.၂၅ သန်း | | | |
| | ထည့်ဝင်သည့်အမျိုးအစား | | **Local (US$/သန်း)** | **Foreign (US$/သန်း)** | **Total (US$/သန်း)** |
| | | ငွေသား | ၁.၁၄၅ | ၁.၇၃၅ | ၂.၈၆၃ |
| | | စက်နှင့် စက်ပစ္စည်း | | ၁.၂၄၂ | ၁.၂၄၂ |
| | | အဆောက်အဦ ဆောက်လုပ်ခြင်း | | ၁.၈၄၃ | ၁.၈၄၃ |
| | | စက်ပစ္စည်းကိရိယာ | ၀.၁၀၅ | | ၀.၁၀၅ |
| | | မော်တော်ယာဉ် | | ၀.၁၈၀ | ၀.၁၈၀ |
| | | **စုစုပေါင်း** | **၁.၂၅၀** | **၅.၀၀၀** | **၆.၂၅၀** |

| | | |
|---|---|---|
| ၆။ | ဝန်ထမ်းအင်အား | - **၁၆၅ ဦး** |
| | ပြည်တွင်း | - ၁၅၅ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ၁၀၈,၀၀၀ ကျပ် နှင့် အမြင့်ဆုံးလစာ ၄၀၀,၀၀၀ ကျပ်) |
| | ပြည်ပ | - ၁၀ ဦး (ပြည်ပ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ၃၅၀,၀၀၀ ကျပ် နှင့် အမြင့်ဆုံးလစာ ၅၀၀,၀၀၀ကျပ်) |
| ၇။ | ရောင်းချမည့်စနစ်<br>နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ်<br>(၆)နှစ်မြောက်<br>(ပြည်ပတင်ပို့) | - ၁၀၀ % ပြည်ပတင်ပို့<br>**(က) Normal စနစ်** |

| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် (Kg) | ရောင်းချမည့် ဈေးနှုန်း (US$/Kg ) |
|---|---|---|---|
| (၁) | **Frozen Fish** | | |
| | Fresh Water (၈၅%) | ၂,၉၇၄,၃၂၀ | ၁.၄၃ |
| | Sea Water (၁၅%) | ၅၂၄,၈၈၀ | ၁.၄၃ |
| (၂) | **Frozen Prawn** | | |
| | Fresh Water (၅၀%) | ၆၄,၈၀၀ | ၃.၀၁ |
| | Sea Water (၅၀%) | ၆၄,၈၀၀ | ၃.၀၁ |
| (၃) | **Dry Fish** | ၂၅,၆၅၀ | ၃.၂၆ |

**(ခ) CMP စနစ်**

| စဉ် | ပစ္စည်းအမျိုးအစား | အရေအတွက် (Kg) | CMP ဈေးနှုန်း (US$/Kg) |
|---|---|---|---|
| (၁) | Frozen Fish(Import) | ၁၃၇,၇၀၀ | ၂.၁၃ |

| | | |
|---|---|---|
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ (၆ နှစ်မြောက်) | - US$ ၅.၇၇၇ သန်း |
| | အသုံးစရိတ် | - US$ ၅.၆၈၀ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ်(၆ နှစ်) | - US$ ၀.၀၉၇ သန်း |
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် | |
| | ဝင်ငွေခွန် | - US$ ၀.၀၃၃ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - US$ ၀.၀၀၄ သန်း |
| | အရင်းကြေကာလ | - ၁၁ နှစ် ၁ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁၂.၅ % |

| | | |
|---|---|---|
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၁,၀၈၀,၀၀၀ Unit |
| ၁၁။ | အခြားတင်ပြချက် | - C.K Frozen Foods Yangon Company Limited ၏ MOA, AOA (မူကြမ်း) များ တင်ပြထားပါသည်။<br>- ဒါရိုက်တာ အဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူနှင့် နိုင်ငံကူး လက်မှတ် မိတ္တူများ တင်ပြထားပါသည်။<br>- မြေပိုင်ရှင် ဒေါ်ခင်သူဇာထွန်း နှင့် မြေငှားသူ C.K Frozen Foods Yangon Company Limited တို့ ချုပ်ဆိုသည့် မြေငှားစာချုပ် (မူကြမ်း) တင်ပြထားပါသည်။<br>- C.K Frozen Fish & Food Company Limited (မြန်မာ)၊ C.K Frozen Fish & Food Company Limited (ထိုင်း) နှင့် Khan Products Pte., Ltd. (စင်္ကာပူ) တို့ ချုပ်ဆိုမည့် ဖက်စပ်စာချုပ် (မူကြမ်း)၊<br>- မြေပိုင်ရှင် ဒေါ်ခင်သူဇာထွန်း (C.K Frozen Fish & Food Co., Ltd. အမည်ဖြင့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ထံ မှ စက်မှုမြေကွက် လေလံအောင်မြင်သည့် အထောက်အထား နှင့် မြေဂရန်စာချုပ် မိတ္တူ၊<br>- မြန်မာနိုင်ငံရှိ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်း ရောင်းဝယ်ရေးဘဏ်တွင် C.K Frozen Fish & Food Company Limited သည် (၁၂-၁၁-၂၀၁၅)ရက်နေ့တွင် US$ ၁,၇၄၇,၀၀၀.၀၀ ရှိကြောင်း ငွေကြေးအထောက် အထား တင်ပြထားပါသည်။<br>- စင်္ကာပူနိုင်ငံရှိ OCBC Bank ၌ Khan Products Pte. Ltd. သည် ၁-၁၁-၂၀၁၅ ရက်နေ့တွင် SG$ ၈,၉၀၂.၃၃ (US$ ၆,၃၄၄.၇၇) ရှိကြောင်း တင်ပြထားပါသည်။<br>- ထိုင်းနိုင်ငံရှိ Bangkok Bank ၌ C.K Frozen Fish & Food Company Limited သည် (၃၁-၁၀-၂၀၁၅) ရက်နေ့တွင် US$ ၄၃၆,၁၀၀.၀၀ ရှိကြောင်း ငွေကြေး အထောက်အထား တင်ပြထားပါသည်။<br>- မြန်မာနိုင်ငံရှိ C.K Frozen Fish & Food Company Limited၊ ထိုင်းနိုင်ငံရှိ C.K Frozen Fish & Food Company Limited နှင့် စင်္ကာပူနိုင်ငံရှိ Khan Products Pte. Ltd. တို့၏ ကုမ္ပဏီမှတ်ပုံတင် မိတ္တူများ တင်ပြထား ပါသည်။ |

| | | |
|---|---|---|
| | | - မြန်မာနိုင်ငံရှိ C.K Frozen Fish & Food Company Limited ၏ MOA, AOA (မိတ္တူ) နှင့် ၂၀၁၄-၂၀၁၅ ဘဏ္ဍာရေးနှစ်အတွက် ဝင်ငွေခွန် ပေးသွင်းထားကြောင်း အထောက်အထားများ တင်ပြထားပါသည်။<br>- စက်ရုံ၏တည်နေရာပြမြေပုံ နှင့် Layout Plan များကို တင်ပြထားပါသည်။<br>- ပြည်တွင်းမှ ဝယ်ယူမည့် ငါးနှင့် ပုစွန်အမျိုးအစားများနှင့် ထုတ်လုပ်မည့် ကုန်ပစ္စည်းနမူနာဓာတ်ပုံများကို တင်ပြထားပါသည်။<br>- မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်း စောင့်ရှောက်မည်ဖြစ်ကြောင်း ကတိဝန်ခံချက်၊ အလုပ်သမားများ လစာအပေါ်ဝင်ငွေခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။ |
| ၁၂။ | စိစစ်တင်ပြချက် | - မြန်မာနိုင်ငံရှိ C.K Frozen Fish & Food Company Limited သည် Sin Yangon International Company Limited အမည်မှ ပြောင်းလဲထားခြင်းဖြစ်ပါသည်။<br>- Exchange Rate အနေဖြင့် 1 US$ =1200 Kyats ဖြင့် ဖော်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁၄ ရက်နေ့ ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် ၄၉/၂၀၁၄ ၏ စီးပွားရေးလုပ်ငန်းအမျိုးအစားများ ပြင်ဆင် သတ်မှတ်ခြင်းတွင် ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့် လုပ်ငန်း၊ ကန့်သတ်ချက် တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့် လုပ်ငန်းစာရင်းတွင် မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။<br>- ပုဂ္ဂလိကမြေအား နိုင်ငံခြားသားပိုင်ကုမ္ပဏီသို့ ငှားရမ်းဆောင် ရွက်ခွင့်ပြုရန်ကိစ္စအတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြထားပြီး၊ စီးပွားရေးရာကော်မတီ၏ အစည်းအဝေးသို့လည်းကောင်း ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးသို့လည်းကောင်း ဆက်လက်တင်ပြသွားမည်ဖြစ်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက-၂/န-၁၄၂/၂၀၁၆(၁၉၆)
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် မတ်လ ၁ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် C.K Frozen Foods Yangon Company Limited မှ Normal စနစ်ဖြင့် ငါး၊ ပုစွန်နှင့် ငါးခြောက် တို့ကိုလည်းကောင်း၊ Contract Processing စနစ်ဖြင့် ငါးကိုလည်းကောင်း ပြုပြင်အေးခဲထုပ်ပိုးပြီး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံ C.K Frozen Fish & Food Company Limited မှ ၂၀%၊ ထိုင်းနိုင်ငံ C.K Frozen Fish & Food Company Limited မှ ၆၅% နှင့် စင်္ကာပူနိုင်ငံ Khan Products Pte., Ltd. မှ ၁၅% ပါဝင်၍ မြန်မာနိုင်ငံတွင် C.K Frozen Foods Yangon Company Limited တည်ထောင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် (အရှေ့ပိုင်း) မြို့နယ်၊ စက်မှုဇုန်အပိုင်း(၁)၊ မြေတိုင်းရပ်ကွက်အမှတ်- ၁၁၃၊ မြေကွက် အမှတ်-၁၈၁၊ ရှိ စုစုပေါင်း မြေဧရိယာ ၂.၄၉၂ ဧက (၁၀,၀၈၄.၇၇စတုရန်းမီတာ) ကို ငှားရမ်းကာ Normal စနစ်ဖြင့် ငါး၊ ပုစွန်နှင့် ငါးခြောက် တို့ကိုလည်းကောင်း၊ Contract Processing စနစ်ဖြင့် ငါးကိုလည်းကောင်း ပြုပြင်အေးခဲထုပ်ပိုးပြီးရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီး မြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဒေါ်ခင်သူဇာထွန်း နှင့် မြေငှားသူ C.K Frozen Foods Yangon Company Limited အကြား ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း) နှင့် C.K Frozen Fish & Food Company Limited(မြန်မာ)၊ C.K Frozen Fish & Food Company Limited(ထိုင်း) နှင့် Khan Products Pte., Ltd.(စင်္ကာပူ) တို့ ချုပ်ဆိုမည့် ဖက်စပ်စာချုပ် (မူကြမ်း) တို့ကို တင်ပြထားပါသည်။

၃။ မြေအကျယ်အဝန်းမှာ စုစုပေါင်း ၂.၄၉၂ ဧက (၁၀,၀၈၄.၇၆၆စတုရန်းမီတာ) ဖြစ်ပြီး မြေငှား သက်တမ်းမှာ ကနဦး ၁၅ နှစ် ဖြစ်ပြီး ၁၀ နှစ် ၂ ကြိမ် သက်တမ်း တိုးမြှင့်ခွင့် ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂၄ လ ခန့် ကြာမြင့်မည် ဖြစ်ကြောင်းတင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုမှာ အမေရိကန်ဒေါ်လာ ၆.၂၅ သန်း ဖြစ်ပြီး အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| | | Local (US$/သန်း) | Foreign (US$/သန်း) | Total (US$/သန်း) |
|---|---|---|---|---|
| (က) | ငွေသား | ၁.၁၄၅ | ၁.၇၃၅ | ၂.၈၆၃ |
| (ခ) | စက်နှင့် စက်ပစ္စည်း | | ၁.၂၄၂ | ၁.၂၄၂ |
| (ဂ) | အဆောက်အဦ ဆောက်လုပ်ခြင်း | | ၁.၈၄၃ | ၁.၈၄၃ |
| (ဃ) | စက်ပစ္စည်းကိရိယာ | ၀.၁၀၅ | | ၀.၁၀၅ |
| (င) | မော်တော်ယာဉ် | | ၀.၁၈၀ | ၀.၁၈၀ |
| | **စုစုပေါင်း** | **၁.၂၅၀** | **၅.၀၀၀** | **၆.၂၅၀** |

* Exchange Rate အနေဖြင့် 1 US$ =1200 Kyats ဖြင့် ဖော်ပြထားပါသည်။

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ ၁၅၅ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ၁၀၈,၀၀၀ ကျပ် နှင့် အမြင့်ဆုံးလစာ ၄၀၀,၀၀၀ ကျပ် ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသည့် ကုန်ပစ္စည်းများအား ပြည်ပသို့ တင်ပို့ရောင်းချမည် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်)ရှိ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

**(က) Normal စနစ်(ပြည်ပတင်ပို့)**

| စဉ် | ပစ္စည်းအမျိုးအစား | အရေအတွက် (Kg) | ရောင်းချမည့် ဈေးနှုန်း (US$/Kg ) |
|---|---|---|---|
| (၁) | **Frozen Fish** | | |
| | Fresh Water (၈၅%) | ၂,၉၇၄,၃၂၀ | ၁.၄၃ |
| | Sea Water (၁၅%) | ၅၂၄,၈၈၀ | ၁.၄၃ |
| (၂) | **Frozen Prawn** | | |
| | Fresh Water (၅၀%) | ၆၄,၈၀၀ | ၃.၀၁ |
| | Sea Water (၅၀%) | ၆၄,၈၀၀ | ၃.၀၁ |
| (၃) | **Dry Fish** | ၂၅,၆၅၀ | ၃.၂၆ |

**(ခ) CMP စနစ်(ပြည်ပတင်ပို့)**

| စဉ် | ပစ္စည်းအမျိုးအစား | အရေအတွက် (Kg) | CMP ဈေးနှုန်း (US$/Kg) |
|---|---|---|---|
| (၁) | Frozen Fish(Import) | ၁၃၇,၇၀၀ | ၂.၁၃ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | US$ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၅.၇၇၇ |
| (ခ) | အသုံးစရိတ် | ၅.၆၈၀ |
| (ဂ) | အသားတင်အမြတ် | ၀.၀၉၇ |

၉။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှဆဋ္ဌမမြောက်နှစ်တွင်ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေအနေဖြင့် ဝင်ငွေခွန်မှာ အမေရိကန်ဒေါ်လာ ဝ.ဝ၃၃ သန်းဖြစ်ပြီး ကုန်သွယ်လုပ်ငန်းခွန်မှာ အမေရိကန်ဒေါ်လာ ဝ.ဝဝ၄ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၁၁ နှစ်နှင့် ၁လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၁၂.၅% ဖြစ်ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိပါကြောင်း၊ မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူဖြစ်စေပါကြောင်း၊ ဖော်ပြပါမြေနေရာတွင် လုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် ဒေသခံများက လူမှုရေး၊ စီးပွားရေး ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါကြောင်းနှင့် အဆိုပါ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေး ဝန်ကြီးဌာန** မှ ငါးလုပ်ငန်း ဦးစီးဌာနမှ ချမှတ်ထားသောလုပ်ငန်းအစီအမံများအတိုင်း လိုက်နာဆောင်ရွက်မည် ဆိုပါက အဆိုပြုလုပ်ငန်းအား ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ခ**

(ဂ) **စက်မှုဝန်ကြီးဌာနမှ** လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် သက်ဆိုင်ရာဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါကြောင်းနှင့် ပုဂ္ဂလိကစက်မှုလုပ်ငန်း

ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ကြောင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ဂ**

(ဃ) **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန** မှ အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်း စီမံချက်များချမှတ်ခြင်း၊ ထုတ်လုပ်ခြင်းလုပ်ငန်းအဆင့်ဆင့်တို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့်လုပ်ငန်းစနစ်များ၊ စက်ပစ္စည်းများကို အသုံးပြု ခြင်းနှင့် လူမှုရေးဆိုင်ရာတာဝန်ခံမှု (Corporate Social Responsibility -CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%) အား ထည့်ဝင်သွားရန် အပါအဝင် ကတိကဝတ်များအား အကောင်အထည်ဖော် ဆောင်ရွက်ရန်လိုအပ်ပါကြောင်း၊ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) အနည်းဆုံးဖြစ်စေရေးတို့ အတွက် ကနဦးပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Initial Environmental Examination-IEE)ကို ဆောင်ရွက်ပြီး အစီရင်ခံစာ ရေးဆွဲ တင်ပြရန်လိုအပ်ပါကြောင်း၊ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေသည့်လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ် ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲ တင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ဃ**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် မြန်မာနိုင်ငံရှိ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်း ရောင်းဝယ်ရေးဘဏ်တွင် C.K Frozen Fish & Food Company Limited သည် (၁၂-၁၁-၂၀၁၅)ရက်နေ့တွင် US$ ၁,၇၄၇,၀၀၀.၀၀ ရှိကြောင်း၊ စင်္ကာပူနိုင်ငံရှိ OCBC Bank ၌ Khan Products Pte. Ltd. သည် ၁-၁၁-၂၀၁၅ ရက်နေ့တွင် SG$ ၈,၉၀၂.၃၃ (US$ ၆,၃၄၄.၇၇) ရှိကြောင်း၊ ထိုင်းနိုင်ငံရှိ Bangkok Bank ၌ C.K Frozen Fish & Food Company Limited သည် (၃၀-၁၀-၂၀၁၅) ရက်နေ့တွင် US$ ၄၃၆,၁၀၀.၀၀ ရှိကြောင်း ငွေကြေးအထောက်အထားများ တင်ပြထားပါသည်။

၁၂။ C.K Frozen Foods Yangon Company Limited မှ မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းစောင့်ရှောက်မည် ဖြစ်ကြောင်း ကတိဝန်ခံချက်၊ အလုပ်သမားများ လစာအပေါ်ဝင်ငွေခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ လုပ်ငန်းသဘောသဘာဝ၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။

၁၃။ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

၁၄။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁၄ ရက်နေ့ ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် ၄၉ / ၂၀၁၄ ၏ စီးပွားရေး လုပ်ငန်း အမျိုးအစားများ ပြင်ဆင်သတ်မှတ်ခြင်းတွင် ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့် လုပ်ငန်း၊ ကန့်သတ်ချက်တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့်လုပ်ငန်း စာရင်းတွင် မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။

၁၅။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၂၉ ရက်နေ့ တွင် ကျင်းပပြုလုပ်သည့် ၄၈/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

၁၆။ **စိစစ်တင်ပြချက်**

(က) မြန်မာနိုင်ငံရှိ C.K Frozen Fish & Food Company Limited သည် Sin Yangon International Company Limited အမည်မှ ပြောင်းလဲထားခြင်း ဖြစ်ပါသည်။

(ခ) ပုဂ္ဂလိကမြေအား နိုင်ငံခြားသားပိုင်ကုမ္ပဏီသို့ ငှားရမ်းဆောင်ရွက်ခွင့်ပြုရန်ကိစ္စ အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြထားပြီး၊စီးပွားရေးရာကော်မတီ၏အစည်းအဝေးသို့လည်းကောင်း၊ ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့လည်းကောင်း ဆက်လက် တင်ပြသွားမည် ဖြစ်ပါသည်။

(ဂ) ပုဂ္ဂလိကမြေတွင် ငှားရမ်းဆောင်ရွက်ခြင်းအတွက် ပြည်ထောင်စုအစိုးရအဖွဲ့မှ သဘောတူ ခွင့်ပြုပြီးမှသာ ကော်မရှင် ခွင့်ပြုမိန့် ထုတ်ပေးမည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ မြန်မာနိုင်ငံ C.K Frozen Fish & Food Company Limited မှ ၂၀%၊ ထိုင်းနိုင်ငံ C.K Frozen Fish & Food Company Limited မှ ၆၅% နှင့် စင်္ကာပူနိုင်ငံ Khan Products Pte., Ltd. မှ ၁၅% ပါဝင်၍ မြန်မာနိုင်ငံတွင် C.K Frozen Foods Yangon Company Limited

တည်ထောင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် (အရှေ့ပိုင်း) မြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်- စက်မှုဇုန်အပိုင်း (၁) ၁၁၃၊ မြေကွက်အမှတ်-၁၈၁ ရှိ စုစုပေါင်း မြေဧရိယာ ၂.၄၉၂ ဧက (၁၀,၀၈၄.၇၆၆ စတုရန်းမီတာ) ကို ငှားရမ်းကာ Normal စနစ်ဖြင့် ငါး၊ ပုစွန်နှင့် ငါးခြောက် တို့ကိုလည်းကောင်း၊ Contract Processing စနစ်ဖြင့် ငါးကိုလည်းကောင်း ပြုပြင်အေးခဲထုပ်ပိုးပြီး ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စအပေါ် သဘောတူ-မတူ။

ဉက္ကဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

C.K Frozen Foods Yangon Company Limited ၏
ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | **C.K Frozen Foods Yangon Company Limited** | C.K Frozen Fish & Food Company Limited (Myanmar) Represented by it Director:, | |
| | | (a) Daw Khin Thuzar Tun 12/ ThaGaKa(N) 138623 Managing Director | Building No.94, Room No.3, Meedon Lan Thwe, No.5, Thuwana, Thinganyun Township,Yangon. |
| | | C.K Frozen Fish & Food Company Limited (Thailand) Represented by it Directors:, | |
| | | (b) Mr. Shahjada Mohammad Ali Khan Bangladeshi BE 0976291 Director | 109/1 MOO 21, Soi Chungsriir Road,Bangpee,Tomru Bangpee Samutpr, 10540 Thailand. |
| | | (c) Mrs. Charuwan Khan Thai T950688 Director | - |
| | | Khan Products Pte., Ltd. (Singapore) Represented by it Directors:, | |
| | | (d) Mr. MD AL Masud Bangladeshi BJ 0074865 Director | House 181, Ulon Road, Khilgano Rampura, Dhaka. |

| | | | |
|---|---|---|---|
| ၁။ | ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | - | ၀၉-၅၄၁၂၃၇၅၊ ၀၉-၉၇၂၇၉၇၆၈၉ |
| ၂။ | ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ | - | အမှတ်-၉၄၊ အခန်း(၃)၊ မီးဒုံးလမ်းသွယ်၊ ၅ ရပ်ကွက်၊ သုဝဏ္ဏ၊ သင်္ဃန်းကျွန်းမြို့နယ်၊ ရန်ကုန်။ |
| ၃။ | ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | - | ဒေါ်ခင်သူဇာထွန်း၊ မန်နေးဂျင်းဒါရိုက်တာ |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့် လုပ်ငန်းများ | - | Normal စနစ်ဖြင့် ငါး၊ ပုစွန်နှင့် ငါးခြောက်တို့ကို လည်းကောင်း၊ Contract Processing စနစ်ဖြင့် ငါးကို လည်းကောင်း ပြုပြင်အေးခဲ ထုပ်ပိုးပြီး ရောင်းချခြင်း လုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - | - |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - | - |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - | - |

နောက်ဆက်တွဲ-က



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီ လ ၁၉ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃၀. ၁၂. ၂၀၁၅)ရက်စွဲပါစာအမှတ်၊ ရက - ၂/ န-၁၄၂/၂၀၁၅(၁၀၃၂)

၁။ မြန်မာနိုင်ငံ C.K Frozen Fish & Food Company Limited မှ ၂၀%၊ ထိုင်းနိုင်ငံ C.K Frozen Fish & Food Company Limited မှ ၆၅%နှင့် စင်္ကာပူနိုင်ငံ Khan Products Pte. Ltd. မှ ၁၅% ပါဝင်၍ မြန်မာနိုင်ငံတွင် C.K Frozen Foods Yangon Company Limited တည်ထောင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း)မြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်-စက်မှုဇုန်အပိုင်း(၁)၁၁၃၊ မြေကွက်အမှတ်-၁၈၁ရှိ စုစုပေါင်းမြေဧရိယာ ၂. ၄၉၂ ဧက (၁၀၀၈၄. ၇၆၆ စတုရန်းမီတာ)ကို ငှားရမ်းကာ Normal စနစ်ဖြင့် ငါး၊ ပုစွန်နှင့် ငါးခြောက်တို့ကိုလည်းကောင်း၊ Contract Processing စနစ်ဖြင့် ငါးကိုလည်းကောင်း ပြုပြင်အေးခဲထုပ်ပိုးပြီး ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား(၁၅၅)ဦး၊ ထိုင်းနိုင်ငံသား(၄)ဦး၊ စင်္ကာပူနိုင်ငံသား(၄)ဦး၊ ဘင်္ဂလားဒေ့ရှ်နိုင်ငံသား(၇)ဦး၊ စုစုပေါင်းလုပ်သားအင်အား(၁၇၀)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း)မြို့နယ်၊ မြေတိုင်းရပ်ကွက် အမှတ်-စက်မှုဇုန်အပိုင်း(၁)၁၁၃၊ မြေကွက်အမှတ်-၁၈၁ရှိ စုစုပေါင်းမြေဧရိယာ ၂. ၄၉၂ ဧက (၁၀၀၈၄. ၇၆၆ စတုရန်းမီတာ)အား မြေငှားရမ်းခတစ်နှစ်လျှင်(၇၂၀)သိန်း၊ (1sqft=0.510 US$, 1sqm=5.49 US$)နှုန်းဖြင့် ကနဦး(၅၀)နှစ်နှင့် နှစ်တိုး(၄)နှစ်(၂)ကြိမ် ငှားရမ်း ဆောင်ရွက်ခြင်း အပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

D/2016/Cabinet/2.,(2)

ကန့်သတ်

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့်(၁၄. ၁. ၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂/ ၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ် (၂)အရ C.K Frozen Foods Yangon Company Limited ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးလုံခြုံရေးနှင့်နယ်စပ်ရေးရာဝန်ကြီး
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဒဂုံမြို့သစ်(အရှေ့ပိုင်း)မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
C.K Frozen Foods Yangon Company Limited
လက်ခံစာတွဲ
မျှောစာတွဲ

D/2016/Cabinet/2,(3)

ကန့်သတ်



ကြ ၁၁/၁

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
မွေးမြူရေး၊ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၊ ၃/ ၃၀၀၀/ မွေးရေကျေး( ဝ၉၂ /၂၀၁၆)
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၁၅ ရက်

P-43
20.1.16

အကြောင်းအရာ ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃၁-၁၂-၂၀၁၅) ရက်စွဲပါစာအမှတ်၊ ရက-၂/ န- ၁၄၂/ ၂၀၁၅(၁၀၃၀)
(၂) ငါးလုပ်ငန်းဦးစီးဌာန၏ (၁၂-၁-၂၀၁၆) ရက်စွဲပါစာအမှတ်၊ ငလ/နပတ- ၅/ ၂၀၁၅-၂၀၁၆/ ၂၄၆

၁။ မြန်မာနိုင်ငံ C.K Frozen Fish & Food Company Limited မှ (၂၀%)၊ ထိုင်းနိုင်ငံ C.K Frozen Fish & Food Company Limited မှ (၆၅%) နှင့် စင်္ကာပူနိုင်ငံ Khan Products Pte.,Ltd မှ (၁၅%) ပါဝင်၍ မြန်မာနိုင်ငံတွင် C.K Frozen Foods Yangon Company Limited တည်ထောင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်အရှေ့ပိုင်းမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်- စက်မှုဇုန်အပိုင်း (၁) ၁၁၃၊ မြေကွက်အမှတ်-၁၈၁ ရှိ စုစုပေါင်းမြေဧရိယာ ၂.၄၉၂ ဧက (၁၀,၀၈၄.၇၆၆ စတုရန်းမီတာ) ကိုငှားရမ်းကာ Normal စနစ်ဖြင့် ငါး၊ ပုစွန်နှင့် ငါးခြောက်တို့ကိုလည်းကောင်း၊ Contract Processing စနစ်ဖြင့် ငါးကိုလည်းကောင်း ပြုပြင်အေးခဲ ထုတ်ပိုးပြီး ရောင်းချခြင်းလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြမှုအပေါ် မွေးမြူရေး၊ ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား ပြန်ကြားပေးပါရန် ရည်ညွှန်းချက်(၁)ပါစာဖြင့် အကြောင်းကြားထားပါသည်။

၂။ C.K Frozen Foods Yangon Company Limited. မှအဆိုပြုတင်ပြခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) **ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှုအချိုးအား ညီညွတ်မှုရှိ/ မရှိ**

အဆိုပြုချက်တွင် ဖော်ပြထားသော Contract Processing စနစ်အတွက် ကုန်ကြမ်းရရှိနိုင်မည့်အခြေအနေမှာ တစ်နှစ်လျှင် ပျမ်းမျှကုန်ကြမ်း (၁၄၈.၅) တန်မှ ကုန်ချော (၁၂၆.၂၂၅) တန်ခန့် ထွက်ရှိနိုင်မည်ဖြစ်ပြီး၊ တစ်ရက်လျှင် ကုန်ချော (၀.၃၄၅၈) တန်ခန့် ထွက်ရှိနိုင်မည် ဖြစ်ပါသည်။

ကန့်သတ်

(ခ) **ဈေးနှုန်းဆိုင်ရာတွက်ခြေကိုက်မှုရှိ/ မရှိ**

အဆိုပြုချက်တွင် ဖော်ပြထားသော Contract Processing စနစ်အတွက် လုပ်အားခမှာ တစ်တန်လျှင် အမေရိကန်ဒေါ်လာ (၁၈၀၀) ခန့်ရရှိနိုင်ပါသဖြင့် တစ်နှစ်လျှင် ထုတ်လုပ်နိုင်မည့်ကုန်ကြမ်း တန် (၁၂၆.၂၂၅) လျှင် အမေရိကန် ဒေါ်လာ (၂၂၇၂၀၅.၀၀) ခန့်ရရှိနိုင်ကြောင်း စိစစ်တွေ့ရှိရပါသဖြင့် C.K Frozen Foods Yangon Company Limited. ၏ ဖော်ပြထားသော အချက်အလက်များအရ ဈေးနှုန်းဆိုင်ရာတွက်ခြေကိုက်မှုရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဂ) **နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား/လူအင်အား အချိုးအစားညီမျှမှုရှိ/ မရှိ**

စက်ရုံတွင် တပ်ဆင်ထားသည့် ကုန်ချောထုတ်လုပ်ရန်စက်များ၏ Capacity မှာ ငါး/ပုစွန်ပြုပြင်ထုတ်လုပ်ရန်အတွက် Contact Freezer ( 5 MT / 90 min x 3 Nos), Air Blast Freezer (10 MT/ 8 hrs x 2 Nos), Coldstore (500 MT x 2 Nos, 1000 MT x 1 No) နှင့် Flake Ice Machine (10 MT / 24 hrs) တပ်ဆင်ထားပြီး၊ စက်၏ Capacity အရ အနည်းဆုံး တစ်နေ့ ငါး (၁၅-၂၀) တန် ထုတ်လုပ်နိုင်ကြောင်း တွေ့ရှိရပါသည်။ စက်များ ကိုင်တွယ်မောင်းနှင်ရန်အတွက် အင်ဂျင်နီယာ (၁)ဦး အပါအဝင် စုစုပေါင်း (၉)ဦးနှင့် ကုန်ကြမ်း၊ ကုန်ချောများ ပြုပြင်ဆောင်ရွက်နိုင်ရန်အတွက် ဝန်ထမ်းစုစုပေါင်း(၁၆၅)ဦးဖြင့် ဆောင်ရွက်လျက်ရှိကြောင်း တွေ့ရှိရပါသဖြင့် ကုန်ချောထုတ်လုပ်မှုနှင့် စက်အင်အား၊ လူအင်အား အချိုးအစား ညီညွတ်မှုရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဃ) **အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ စီးပွားရေးတွက်ခြေကိုက်မှုရှိ/ မရှိ**

အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ စီးပွားရေးတွက်ခြေကိုက်မှုရှိကြောင်း စိစစ်တွေ့ရှိချက်များအရ သိရှိရပါသည်။ အဆိုပြုလွှာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် ရေဆိုးများကို သန့်စင်သောစနစ်၊ အနံ့ဆိုးများကို သန့်စင်သောစနစ်၊ မီးဘေး ကြိုတင်ကာကွယ်မှု အစီအစဉ်များ တွေ့ရှိရပါသည်။

၃။ မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန၊ ငါးလုပ်ငန်းဦးစီးဌာန၊ ဖွံ့ဖြိုးရေးနှင့် သုတေသနဌာနခွဲ၊ ငါးလုပ်ငန်းစစ်ဆေးရေးနှင့် အရည်အသွေးထိန်းသိမ်းရေးဌာနစု အနေဖြင့် ပြည်ပပို့ကုန် ရေထွက်ပစ္စည်းများနှင့် လက်ခစားအပ်ကုန်စနစ်ဖြင့် ထုတ်လုပ်သည့် ရေထွက်ပစ္စည်းများ၏ အရည်အသွေးနှင့် စားသုံးသူများ ဘေးအန္တရာယ်ကင်းရှင်းစေရေး အဓိကထား၍ စစ်ဆေးဆောင်ရွက်ပေးခြင်းဖြစ်ပါသည်။

၄။ C.K Frozen Foods Yangon Company Limited. သည် Normal စနစ်ဖြင့် ငါး၊ ပုစွန်နှင့် ငါးခြောက်တို့ကိုလည်းကောင်း၊ Contract Processing စနစ်ဖြင့် ငါးကိုလည်းကောင်း ပြုပြင်အေးခဲ ထုတ်ပိုးပြီး ရောင်းချခြင်းလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် ကုမ္ပဏီ၏ တင်ပြချက်အပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက် ပြန်ကြားခွင့်ပြုပါရန်ကို (၁၄-၁-၂၀၁၆) ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မွေးမြူရေး၊ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန၏ အလုပ်အမှုဆောင်ကော်မတီအစည်းအဝေးအမှတ်စဉ် (၄/၂၀၁၆) မှ သဘောတူခွင့်ပြုခဲ့ပါသည်။

၅။ သို့ဖြစ်ပါ၍ C.K Frozen Foods Yangon Company Limited. သည် Normal စနစ်ဖြင့် ငါး၊ ပုစွန်နှင့် ငါးခြောက်တို့ကိုလည်းကောင်း၊ Contract Processing စနစ်ဖြင့် ငါးကိုလည်းကောင်း ပြုပြင်အေးခဲ ထုတ်ပိုးပြီး ရောင်းချခြင်းလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် ကုမ္ပဏီ၏ တင်ပြချက်အပေါ် လက်ခစားအပ်ကုန်စနစ်ဖြင့် ထုတ်လုပ်သည့် ရေထွက်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ပြီး ပြန်လည်တင်ပို့ရာတွင် ငါးလုပ်ငန်းဦးစီးဌာနမှ ချမှတ်ထားသော လုပ်ငန်းအစီအမံများအတိုင်း လိုက်နာဆောင်ရွက်မည်ဆိုပါက မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာနမှ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

၁၅/၁/၁၆

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
ဒေါက်တာခင်ဇော်၊ အမြဲတမ်းအတွင်းဝန်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
မိတ္တူ-
(၁) ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်းဦးစီးဌာန
(၂) C.K Frozen Foods Yangon Company Limited.
(၃) ရုံးလက်ခံ
(၄) မျှော

နောက်ဆက်တွဲ-ဂ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊၂၁-စမ(၂)၂၀၁၅-၂၀၁၆ (၃၅၅၁)

ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၁၂ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၀.၁၂.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၂ / န-၁၄၂/ ၂၀၁၅ (၁၀၃၀)

၁။ C.K Frozen Fish & Foods Yangon Co.,Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်အရှေ့ပိုင်းမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်-စက်မှုဇုန်အပိုင်း(၁)၁၁၃၊ မြေကွက်အမှတ်(၁၈၁)တွင် Normal စနစ်နှင့် CMP စနစ်တို့ဖြင့် ငါး၊ ပုဇွန်နှင့် ငါးခြောက်တို့ကို ပြုပြင်အေးခဲထုပ်ပိုးပြီး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် CMP စနစ်တို့ဖြင့် ငါး၊ ပုဇွန်နှင့်ငါးခြောက်တို့ကို ပြုပြင်အေးခဲထုပ်ပိုးပြီး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။



ကန့်သတ်

၃။ သို့ပါ၍ C.K Frozen Fish & Foods Yangon Co.,Ltd. မှ CMP စနစ်တို့ဖြင့် ငါး၊ ပုဇွန်နှင့်ငါးခြောက်တို့ကို ပြုပြင်အေးခဲထုပ်ပိုးပြီး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါ လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှု လုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၁၂.၁.၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို
စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန



ကန့်သတ်

MIC 24 18/11



ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်း အဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/MIC(OSS)/ECD/ ၀၁(၁၃/၁၆ )
ရက် စွဲ ၊ ၂၀၁၆ခုနှစ် ဇန်နဝါရီလ ၁၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **C.K Frozen Food Yangon Company Limited မှNormal စနစ်ဖြင့် ငါး၊ပုစွန်နှင့်ငါးခြောက်တို့ကိုလည်းကောင်း၊ Contract Processing စနစ်ဖြင့်ငါးကိုလည်းကောင်း၊ ပြုပြင်အေးခဲထုတ်ပိုးပြီး ရောင်းချခြင်းလုပ်ငန်းကိုလုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၀-၁၂-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက-၂/ န-၁၄၂ / ၂၀၁၅(၁၀၃၃)

၁။ မြန်မာနိုင်ငံC.K Frozen Fish & Food Company Limited မှ(၂၀%)၊ ထိုင်းနိုင်ငံ C.K Frozen Food Yangon Company Limited မှ(၆၅%)နှင့် စင်္ကာပူနိုင်ငံ Khan Products Pte.Ltd မှ(၁၅%)ပါဝင်၍ မြန်မာနိုင်ငံတွင် C.K Frozen Food Yangon Company Limited တည်ထောင်ပြီးဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်အရှေ့ပိုင်းမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်-စက်မှုဇုန်အပိုင်း(၁)၁၁၃၊ မြေကွက်အမှတ်-၁၈၁ ရှိ စုစုပေါင်းမြေဧရိယာ ၂.၄၉၂ဧက(၁၀၀၈၄.၇၆၆စတုရန်းမီတာ)ကို ငှားရမ်းကာ Normal စနစ်ဖြင့် ငါးပုစွန်နှင့်ငါးခြောက်တို့ကိုလည်းကောင်း၊ Contract Processing စနစ်ဖြင့် ငါးကိုလည်းကောင်း၊ ပြုပြင်အေးခဲထုတ်ပိုးပြီးရောင်းချခြင်းလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်ပတ်သက်၍ စီစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့်အကြောင်းကြားလာပါသည်။

၂။ ပေးပို့လာသောအဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ(၅၀)နှစ်ဖြစ်ပြီး (၁၀)နှစ်သက်တမ်းတိုး(၂)ကြိမ်ဖြစ်ကြောင်း ထုတ်ကုန်ပစ္စည်းများအနေဖြင့် (၁)နှစ်မှ(၁၀)နှစ်အတွင်း Nor-

mal စနစ်ဖြင့် ငါးပုဇွန်နှင့်ငါးခြောက် ၄၂၂၆.၈၅တန်(4226.85 Ton)နှင့် Contract Processing စနစ်ဖြင့် ၂၂၉.၅တန်(229.5Ton) စုစုပေါင်း ၄၄၅၆.၃၅တန်(4456.35Ton)ထိတိုးမြှင့်ထုတ်လုပ်သွားမည်ဖြစ်ကြောင်း၊ မီးဘေးလုံခြုံရေးစီမံချက်၊ ဝန်ထမ်းများသက်သာချောင်ချိရေးအစီအစဉ်များကို ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ ရရှိလာသောအသားတင်အမြတ်ငွေမှ (၂%)အား လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု ( Corporate Social Responsibility-CSR ) လုပ်ငန်းများတွင် အသုံးပြုသွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ ပြဋ္ဌာန်းထားသော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီလိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှုအစီအစဉ်၊ လေ့လာစောင့်ကြည့်မည့်အစီအစဉ်နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်များကို ဆောင်ရွက်သွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ အဆိုပါငါးနှင့်ပင်လယ်ရေထွက်ကုန်ပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်းများဆောင်ရွက်ခြင်းကြောင့်အအေးခန်းစက်ရုံများတွင် Processing Washing & Peeling Room များ၌ရေများအသုံးပြုဆောင်ရွက်မည့်ဖြစ်ရာ အဆိုပါရေဆိုးများကြောင့် ပတ်ဝန်းကျင်ရေထုညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်း၊ ငါး၊ ပုဇွန်၊ ငါးခြောက်တို့ကို သိုလှောင်ထားခြင်းကြောင့် အနံ့ဆိုးများထွက်ရှိပြီး လေထုညစ်ညမ်းခြင်းစသည့် ပတ်ဝန်းကျင်ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ C.K Frozen Food Yangon Company Limited မှ Normal စနစ်ဖြင့် ငါး၊ ပုဇွန်နှင့်ငါးခြောက်တို့ကိုလည်းကောင်း၊ Contract Processing စနစ်ဖြင့် ငါးကိုလည်းကောင်း၊ ပြုပြင်အေးခဲထုတ်ပိုးပြီးရောင်းချခြင်းလုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်အားပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများလျော့နည်းစေရန်အတွက်လုပ်ငန်းစီမံချက်များချမှတ်ခြင်း၊ ထုတ်လုပ်မှုလုပ်ငန်းအဆင့်ဆင့်တို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းစနစ်များ၊ စက်ပစ္စည်းများကို အသုံးပြုခြင်းနှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံမှု( Corporate Social Responsibility - CSR )အား အမြတ်ငွေ၏(၂%) ထည့်ဝင်သွားရန်

အပါအဝင်ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များအတိုင်းအကောင်အထည်ဖော် ဆောင်ရွက်သွားရန်။

(ခ) လုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး နှင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း( Initial Environmental Examination-IEE ) ဆောင်ရွက်၍ အစီရင်ခံစာရေးဆွဲတင်ပြရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေး ဆိုင်ရာထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်၊ စွန့် ပစ်ပစ္စည်း၊ စွန့်ပစ်အရည်၊ အခိုးအငွေ့စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာ မည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေးဆောင်ရွက်မည့်လုပ်ငန်းများ အတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီ အစဉ် ( Environmental Manangement Plan-EMP ) ရေးဆွဲတင်ပြ၍ စီမံ ချက်ပါအတိုင်းအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ် နည်းများနှင့်အညီ လိုက်နာကျင့်သုံးအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် ဒေသခံပြည်သူများ၏ဆန္ဒနှင့် သ ဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

ကန့်သတ်

မိတ္တူကို

ပြည်ထောင်စုဝန်ကြီး၊
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)၊
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

ကန့်သတ်